## မီးဘေးကာကွယ်ရေးအစီအမံများ

(၁) စက်ရုံ၏ပတ်လည် ပေ ၅၀ အကွာအဝေးတိုင်းတွင် (၁) လက်မရေပိုင်ခေါင်းတစ်ခုနှင့် ပိုက်ပျော့ (၅၀) ပေ (၁) ခုစီထားရှိခြင်း။

(၂) မီးသတ်ဆေးဗူးများကို စက်ရုံအဆောက်အဦးများ အတွင်း/အပြင် ဝင်ပေါက်ထွက်ပေါက် အနီးနံရံများတွင်ချိတ်ဆွဲထားရှိခြင်းနှင့် မီးချိတ်/ရေပုံး/မီးကပ်/သဲအိတ်များ စီစဉ်ထားမည် ဖြစ်ခြင်း။

(၃) ရေလှောင်ကန်များအား အစဉ်အမြဲ ရေဖြည့်ထားရှိခြင်း။

(၄) အမှိုက်သရိုက်၊ လောင်စာများကို ပုံမှန်ရှင်းလင်းခြင်း။

(၅) လောင်စာဆီများကို ကွန်ကရစ်ကန်အတွင်း ပီပါဖြင့် လေဝင်လေထွက်ကောင်းသည့်နေရာတွင် သိုလှောင်ထားမည်ဖြစ်ခြင်း။

(၆) စက်ရုံတွင် အရေးပေါ်ထွက်ပေါက်များ ထားရှိခြင်း။

(၇) ဝန်ထမ်းများကို အရံမီးသတ်သင်တန်းများ တက်ရောက်စေရန် စီစဉ်ထားခြင်း။

(၈) မီးဘေးနှင့်အရေးပေါ်ကိစ္စများအတွက် စက်ရုံပိတ်ရက်များတွင် လုံခြုံရေးဝန်ထမ်း (၁၄) ဦးနှင့်အတူ စက်ရုံဝန်ထမ်း (၅) ဦး အလှည့်ကျ တာဝန်ပေးထားခြင်း။

(၉) စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာတားမြစ်ခြင်းနှင့် လျှပ်စစ်အန္တရယ်မဖြစ်ပေါ်စေရေး အစဉ်အမြဲစိစစ်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Kun Naung Myint Wai
Chief Executive Officer
Wa Minn Group of Companies

116 Thamine Station Road, Quarter 2, Mayan Gone Township, Yangon, Myanmar.
Tel : (951) 9660 772, 9660 412, 9660 876, 9661 139, 9661 317
F : (951) 9660 772, 9660 412
E-mail : admin@waminn.com

## CSR ရန်ပုံငွေထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း

ကျွန်တော်များ ဝမင်းကုမ္ပဏီများအုပ်စုကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ် (၂) ရပ်ကွက်၊ သမိုင်းဘူတာရုံလမ်း၊ အမှတ် (၁၁၆) ရှိ မြေ ၆. ၀၁၅ ဧက ပေါ်ရှိ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းလက်အောက်ရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံကို (၅+၁၅)နှစ် ငှားရမ်း၍ ကြွေရည်စိမ်မီးဖိုချောင်သုံးနှင့် အိမ်သုံးပစ္စည်းထုတ်လုပ်သည့်လုပ်ငန်းကို ဆောင်ရွက်ခဲ့ပါသည်။ ယခုအခါ အဆိုပါကြွေရည်စိမ်မီးဖိုချောင်သုံးနှင့် အိမ်သုံးပစ္စည်းထုတ်လုပ်သည့် လုပ်ငန်းကို စက်ရုံငှားရမ်းသက်တမ်းအား (၅၀+၁၀+၁၀)နှစ်တိုးမြှင့်ပြီး မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းမှ နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။ ၎င်း ၂ % ၏ ၃၀ % အား ပညာရေးအတွက်လည်းကောင်း၊ ၂၅ % အား ကျန်းမာရေးအတွက်လည်းကောင်း၊ ၂၀ % အားလမ်းပန်းဆက်သွယ်ရေးအတွက်နှင့် ကျန် ၂၅ % အား လူမှုရေးနှင့်ပတ်ဝန်းကျင် ထိန်းသိမ်းရေးလုပ်ငန်းများအတွက် သုံးစွဲရန်လျာထားပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**Kun Naung Myint Wai**
**Chief Executie Officer**
**Wa Minn Group of Companies**

**<u>ကန်ုသတ်</u>**

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## စက်မှုဝန်ကြီးဌာန

## စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

## နှင့်

## Wa Minn Group of Companies Co.,Ltd

## တို့

## ချုပ်ဆိုသော

## ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)အား

## ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ်

## သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့်
## တတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ လ ရက်

**<u>ကန့်သတ်</u>**

ကန့်သတ်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန
## စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း
## နှင့်
## Wa Minn Group of Companies Co.,Ltd တို့ချုပ်ဆိုထားသော
## ကြွေရည်စိမ်ပစ္စည်းစက်ရုံ (မရမ်းကုန်း) အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်
## တတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၂၅ ခုနှစ်        လ (   )ရက်နေ့တွင် နေပြည်တော်ရှိ ဦးရည်မွန် ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း( နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံ သူများနှင့် ဥပဒေ အရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်နှင့် ဦးခွန်နောင်မြင့်ဝေ အမျိုးသားမှတ်ပုံတင်အမှတ်၊ ၁၂/အစန(နိုင်) ၀၂၀၄၇၅ ကိုယ်စားပြုသော Wa Minn Group of Companies Co.,Ltd အမှတ်(၆၆၆/စီ)၊မြကန်သာ(၂)လမ်း၊အမှတ်(၂)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး (နောင်တွင် အငှားချထားခြင်းခံ ရသူ ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌၎င်းအားဆက်ခံသူများ တရားဝင် ကိုယ်စားလှယ်များ ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူ များ ပါဝင်သည်။ ) က အခြားတစ်ဖက် တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦး သဘောတူစာချုပ်ချုပ်ဆိုကြပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၂)ရပ်ကွက်၊ သမိုင်းဘူတာရုံလမ်း၊ အမှတ်(၁၁၆) ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)၏ မြေ(၆.၁၀၅)ဧက နှင့်စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဉ်များနှင့် အခြားပစ္စည်းကို(၃၀)နှစ်သက်တမ်း ငှားရမ်း၍ ကြွေရည်စိမ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်း ၊ ဖြန့်ဖြူးခြင်း၊ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် သဘောတူစာချုပ်ကို ၂၀၁၁ခုနှစ် စက်တင်ဘာလ(၂၀)ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ် (နောင်တွင် မူလစာချုပ်ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။)ချုပ်ဆို၍လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့လုပ်ငန်းဆောင်ရွက်ရာတွင် မူလစာချုပ်၏ သက်တမ်းကို (၁.၁၀.၂၀၁၁)မှ (၃၀.၉.၂၀၃၁)ထိ (၂၀)နှစ်ကို ငှားရမ်းခ တိုးမြှင့်၍ နှစ်ရှည်ငှားရမ်းမည့် ပြင်ဆင်ချက် သဘောတူစာချုပ် (နောင်တွင် ပြင်ဆင်စာချုပ်ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။)ကို (၃၀-၁-၂၀၁၄)ရက်နေ့တွင် စာချုပ်ဝင်များအကြား နှစ်ဦးသဘောတူ စာချုပ်ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ဂ) အဆိုပါစာချုပ်ပြင်ဆင်ခြင်းနှင့်ပတ်သက်၍ လုပ်ငန်းမှသဘောတူခဲ့ပြီးစက်မှုဝန်ကြီးဌာန (၁၉.၉.၂၀၁၃)ရက်နေ့ကျင်းပသည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး အမှတ်စဉ် (၁၂/၂၀၁၃-၂၀၁၄) ဖြင့် ခွင့်ပြုပြီး ဖြစ်ပါသည်။

ကန့်သတ်

(ဃ) သက်တမ်းတိုးမြှင့်ခြင်းနှင့်ပတ်သက်၍အစိုးရအဖွဲ့မှ ခွင့်ပြုသော မူလငှားရမ်းသက်တမ်း (၅)နှစ်မှ နောက်ထပ် (၁၅)နှစ် တိုးမြှင့်ပြီး သက်တမ်း(၂၀)နှစ်အထိ ငှားရမ်းခွင့်ကို (၃၀.၁၀.၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၃၀/၂၀၁၃)မှ သဘောတူခွင့်ပြုပြီး ဖြစ်ပါသည်။

(င) ငှားရမ်းခအား တစ်နှစ်လျှင် ကျပ် (၁၅၀.၅၀၀) သန်းသို့ တိုးမြှင့်မှုနှင့်ပတ်သက်၍ စက်မှုဝန်ကြီးဌာန၏ (၂၉.၁.၂၀၁၄)ရက်နေ့တွင် ကျင်းပသည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ အစည်းအဝေးအမှတ်စဉ် (၂၁/၂၀၁၃-၂၀၁၄)ဖြင့် ခွင့်ပြုပြီး ဖြစ်ပါသည်။

(စ) မူလစာချုပ်နှင့်ပြင်ဆင်ချက်သဘောတူစာချုပ်ပါ ကုမ္ပဏီအမည်ကို ပြောင်းလဲပြင်ဆင်ချုပ်ဆိုသည့်စာချုပ်အား ၂၀၁၄ ဇီဇင်ဘာလ ၁၂ ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ် (နောင်တွင် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်ဟု ခေါ်ဆိုပါမည်။ )ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ဆ) အဆိုပါ ကုမ္ပဏီအမည်ပြောင်းလဲခြင်း စာချုပ်ပြင်ဆင်ခြင်းနှင့်ပတ်သက်၍ လုပ်ငန်းမှ သဘောတူခဲ့ပြီး စက်မှုဝန်ကြီးဌာန၏ (၉.၉.၂၀၁၄)ရက်နေ့ကျင်းပသည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၆/၂၀၁၄-၂၀၁၅)ခွင့်ပြုပြီး ဖြစ်ပါသည်။

(ဇ) တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်၏ သက်တမ်းကို (၁.၁၀.၂၀၁၁)မှ (၃၀.၉.၂၀၆၁)ထိ (၅၀+၁၀+၁၀)နှစ် ဖြင့် သက်တမ်းတိုးမြှင့်ငှားရမ်းလိုကြောင်း တတိယအကြိမ်ပြင်ဆင်သည့် ဤပြင်ဆင်ချက် သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်း ဖြစ်ပါသည်။

(ဈ) တတိယအကြိမ် ပြင်ဆင်ချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (       )ရက်စွဲပါ ခွင့်ပြုချက်အမှတ် (          )ဖြင့် ခွင့်ပြုခဲ့ပါသည်။

သို့ပါ၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် မူလစာချုပ်၊ ပြင်ဆင်ချက်သဘောတူ စာချုပ်နှင့် ဒုတိယအကြိမ်ကုမ္ပဏီအမည်ပြောင်းလဲပြင်ဆင်ချက် သဘောတူစာချုပ်အား ပြင်ဆင်သည့် ဤတတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ကို အောက်ပါသဘောတူညီချက်များနှင့်အညီ ချုပ်ဆိုရခြင်း ဖြစ်ပါသည် -

၁။ ပြင်ဆင်ချက်သဘောတူစာချုပ်ပါ စာချုပ်သက်တမ်းနှင့် အငှားချထားခြင်းခံရသူမှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်ခေါင်းစဉ်အောက်ရှိအပိုဒ်(၄)အားပယ်ဖျက်၍ စာချုပ်သက်တမ်းနှင့် ရည်ရွယ်ချက်ခေါင်းစဉ်အဖြစ် အောက်ပါ စာပိုဒ်များဖြင့် ထပ်မံဖြည့်စွက်ရမည်။

**စာချုပ်သက်တမ်းနှင့် ရည်ရွယ်ချက်**

၄။ စာချုပ်သက်တမ်းနှင့် ရည်ရွယ်ချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) စာချုပ်သက်တမ်းမှာ ၂၀၁၁ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့မှစ၍ ၂၀၆၁ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့ထိ (၅၀+၁၀+၁၀)နှစ် ဖြစ်ပါသည် ။စာချုပ်သက်တမ်းတိုးလိုပါက သက်တမ်းတစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်တိုးနိုင်သည်။

(ခ) "အငှားချထားသူ" ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး မရမ်းကုန်းမြို့နယ် အမှတ်(၂) ရပ်ကွက်၊ သမိုင်းဘူတာရုံလမ်း၊ အမှတ်(၁၁၆) ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)၏ မြေ(၆.၁၀၅)ဧကနှင့် စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဉ်များနှင့် အခြားပစ္စည်းများကို "အငှားချထားခြင်းခံရသူ"မှ ငှားရမ်း၍ ကြွေရည်စိမ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်း လုပ်ငန်းများအပြင် စတီးလ်ပစ္စည်းအမျိုးမျိုး၊ အထည်ချုပ်လုပ်ငန်းနှင့် Waste Water Treatment Unit ထုတ်လုပ်ခြင်း ၊ ကြွေရည်စိမ်မီးဖိုချောင်သုံးနှင့် လူသုံးကုန်ပစ္စည်း အမျိုးမျိုးထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် ရည်ရွယ်၍ ဤစက်ရုံငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်း ဖြစ်ပါသည်။

၂။ ပြင်ဆင်စာချုပ်အပိုဒ်(၂)ပါ ငှားရမ်းမည့်အချိန်ကာလခေါင်းစဉ်အောက်ရှိ အပိုဒ်(၃)အားပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည် -

၃။ ငှားရမ်းမည့် အချိန်ကာလမှာ (၁.၁၀.၂၀၁၁)မှ (၃၀.၉.၂၀၆၁)ထိ (၅၀+၁၀+၁၀)နှစ်ဖြစ်သည်။

၃။ ပြင်ဆင်စာချုပ် ငှားရမ်းခနှုန်းထားခေါင်းစဉ်အောက်ရှိ အပိုဒ်(၈)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည် -

၈။ နောင်လာမည့်နှစ်များတွင် ငှားရမ်းခအား (၂)နှစ်တစ်ကြိမ်ပြန်လည်သုံးသပ်၍ ငှားရမ်းခတန်ဘိုး၏ (၂)% မှ (၅)%အတွင်း နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

၄။ ပြင်ဆင်စာချုပ် ငှားရမ်းခပေးချေခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၉)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည် -

၉။ ငှားရမ်းခနှုန်းထားမှာမူလစာချုပ်အပိုဒ်(၂) အပိုဒ်ခွဲ(က)(ခ)(ဂ)နှင့် ပြင်ဆင်ချက်သဘောတူစာချုပ်အပိုဒ်(၁)အပိုဒ်ခွဲ(ဃ)(င)(စ)ပါ စက်ရုံ၊ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာ၊ ရုံးသုံးပရိဘောဂအပါအဝင် တစ်နှစ်လျှင်ကျပ် ( )သန်း၊ (ကျပ် တိတိ)ဖြစ်ပါသည်။

၅။ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ် အပိုဒ်(၄)ပါ ငှားရမ်းခပေးချေခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၉)တွင် အပိုဒ်ခွဲ၉(က)အား ပယ်ဖျက်၍ အောက်ပါ စာပိုဒ်ဖြင့် အစားထိုးရမည်-

**ငှားရမ်းခပေးချေခြင်း**

၉(က)။ အငှားချထားခြင်းခံရသူသည် ယခုစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃)လအတွက် ငှားရမ်းခ ကျသင့်ငွေကို (၃)လလျှင်တစ်ကြိမ် ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည်။ (၃)လအတွက်ငှားရမ်းခအား ပျက်ကွက်ပါက နောက်ကျကြေးအဖြစ် တစ်လနောက်ကျတိုင်း(၃)လအတွက် ပေးသွင်းရမည့်ငွေ၏(၀.၅)%ကို (သုညဒသမငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ်သတ်မှတ်၍ နောက်ကျသည့် ရက်တိုင်းအတွက် တွက်ချက်ပေးဆောင်ရမည်။

၇။ ဒုတိယအကြိမ် ပြင်ဆင်စာချုပ်တွင် အပိုဒ်(၁၁)(၁၂)(၁၃)(၁၄)(၁၅)(၁၆)အဖြစ် အောက်ပါစာပိုဒ်များဖြင့် ထပ် မံ ဖြည့်စွက်ရမည် -

၁၁။ ဤတတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်သည် ၂၀၁၅ ခုနှစ် လ ( ) ရက် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၂။ မူလစာချုပ်၊ ပြင်ဆင်စာချုပ်နှင့် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်ပါ ကျန်စည်း ကမ်း ချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုး သက်ရောက်မှု ရှိစေရမည်။

၁၃။ ဤ တတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ပါစည်းကမ်းချက်များနှင့် နောက်ဆက်တွဲများသည် မူလစာချုပ်၊ ပြင်ဆင်စာချုပ်နှင့် ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်၏ တစ်စိတ် တစ်ဒေသဖြစ်သည်။

၁၄။ ဤတတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်သည် နိုင်ငံတော်မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိ နှိုင်း၍ ပြင်ဆင်ချုပ်ဆိုနိုင်သည်။

၁၅။ ဤ တတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်သည် မူလစာချုပ်၊ ပြင်ဆင်စာချုပ်နှင့် ဒုတိယအကြိမ်ပြင်ဆင်စာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၁၆။ ဤတတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်အား ၂၀၁၅ ခုနှစ် လ ရက်နေ့တွင် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| **အငှားချထားသူ(ကိုယ်စား)** | **အငှားချထားခြင်းခံရသူ(ကိုယ်စား)** |
| ဦးရည်မွန်<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း | ဦးခွန်နောင်မြင့်ဝေ<br>Chief Executive Officer<br>Wa Minn Group of Companies<br>Co., Ltd |

အသိသက်သေ

| | |
|---|---|
| ဒေါက်တာစိုးနိုင်<br>ညွှန်ကြားရေးမှူး<br>စီမံရေးဌာန | ဦးမြင့်ဝေ<br>၁၂/အစန(နိုင်)၁၂၁၂၂၁<br>အမှတ်(၆၆၉/စီ)၊မြကန်သာ(၂)လမ်း<br>အမှတ်(၂)ရပ်ကွက်၊ကမာရွတ်မြို့နယ်<br>ရန်ကုန်မြို့။ |
| ဦးသန်းထွန်း<br>ညွှန်ကြားရေးမှူး<br>ထုတ်လုပ်ရေးဌာန | ဦးလွင်မိုး<br>၁၂/မအရ(နိုင်)၀၇၉၆၅၅<br>အမှတ်(၆၃)၊အောင်မင်းခေါင်(၁)လမ်း<br>(၁၀)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ |
| ဒေါ်ခင်မြင့်သီ<br>ညွှန်ကြားရေးမှူး<br>ဘဏ္ဍာရေးဌာန | ဦးနောင်ခွန်မြင့်ဝေ<br>၁၂/မရက(နိုင်)၁၂၇၅၈၅<br>အမှတ်(၆၆၉/စီ)၊မြကန်သာ(၂)လမ်း<br>ကမာရွတ်မြို့နယ်၊ရန်ကုန်မြို့။ |

251
23.12.14

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## စက်မှုဝန်ကြီးဌာန

## စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

စာအမှတ်၊၁၅၀၆(၁-စမ) ၂၀၁၄/ငှားရမ်း/၁၅၇၂

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၇ ရက်

အကြောင်းအရာ။ စာချုပ်မိတ္တူပေးပို့ခြင်းကိစ္စ

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းလက်အောက်ရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း) အားနှစ်ရှည်ငှားရမ်းထားသော ဝမင်းကုမ္ပဏီလီမိတက်အမည်အစား Wa Minn Group of Companies Co.,Ltdအမည်သို့ပြောင်းလဲပြင်ဆင်ချက် သဘော တူစာချုပ် မိတ္တူတစ်စောင်အား ဤစာနှင့်အတူ ပူးတွဲပေးပို့ပါသည်။

17.12.14

ဦးဆောင်ညွှန်ကြားရေးမှူး( ... )
(ဒေါက်တာစိုးနိုင်၊ ညွှန်ကြားရေးမှူး)

Chief Executive Officer

Wa Minn Group of Companies Co.,Ltd

မိတ္တူကို

- စက်ရုံတာဝန်ခံ၊ ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)
- ရုံးလက်ခံ
- မျှောစာတွဲ

(၃)

<u>တန့်သတ်</u>

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# စက်မှုဝန်ကြီးဌာန

# စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

# Wa Minn Group of Companies Co.,Ltd

တို့

ချုပ်ဆိုသော

# ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ် ကုမ္ပဏီအမည်ပြောင်းလဲပြင်ဆင်ချက်သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာ လ (၂၂)ရက်

<u>တန့်သတ်</u>

Repair contracts\repair contracts,enamel mygn(New name of Company)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## စက်မှုဝန်ကြီးဌာန

## စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

## နှင့်

## Wa Minn Group of Companies Co.,Ltd တို့ ချုပ်ဆိုထားသော

## ကြွေရည်စိမ်ပစ္စည်းစက်ရုံ (မရမ်းကုန်း) အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

## ကုမ္ပဏီအမည်ပြောင်းလဲပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ် ဒီဇင်ဘာ လ (၂၂)ရက်နေ့တွင် နေပြည်တော်ရှိ ဦးရည်မွန် ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း( နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများနှင့် ဥပဒေ အရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်နှင့် ဦးခွန်နောင်မြင့်ဝေ၊ အမျိုးသားမှတ်ပုံတင်အမှတ် ၊ ၁၂/အစန(နိုင်) ၀၂၀၄၇၅ ကိုယ်စားပြုသော Wa Minn Group of Companies Co.,Ltd အမှတ်(၆၆၉/စီ)မြကန်သာ(၂) လမ်း၊အမှတ်(၂)ရပ်ကွက်၊ ကမာရွတ်မြို့နယ် ၊. ရန်ကုန်တိုင်းဒေသကြီး (နောင်တွင် အငှားချထားခြင်းခံရသူဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ တရားဝင် ကိုယ်စားလှယ်များ ၊ ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများ ပါဝင်သည်။ ) က အခြားတစ်ဖက် တို့သည် -

(က) ရန်ကုန်တိုင်းဒေသကြီး၊မရမ်းကုန်းမြို့နယ်၊အမှတ် (၂)ရပ်ကွက်၊ သမိုင်းဘူတာရုံလမ်း ၊ အမှတ်(၁၁၆) ရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)၏မြေ(၆.၁၀၅)ဧကနှင့် စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဥ်များနှင့် အခြားပစ္စည်းများကို (၁၀)နှစ် သက်တမ်း ငှားရမ်း၍ ကြွေရည်စိမ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်း ၊ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် သဘောတူစာချုပ်ကို ၂၀၁၁ ခုနှစ် စက်တင်ဘာ(၂၀)ရက်နေ့တွင် နှစ် ဦးသဘောတူစာချုပ်(နောင်တွင် မူလစာချုပ်ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။)ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့လုပ်ငန်းဆောင်ရွက်ရာတွင် ငှားရမ်းခတိုးမြှင့်၍ နှစ်ရှည်ငှားရမ်းမည့် ပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်း ဖြစ်ပါသည်။ မူလစာချုပ်၏သက်တမ်းကို(၁.၁၀.၂၀၁၁)မှ(၃၀.၉.၂၀၃၁)ထိ(၂၀)နှစ် သက်တမ်းတိုးမြှင့်ခြင်းအား(၃၀.၁.၂၀၁၄)ရက်နေ့တွင်စာချုပ် ချုပ်ဆိုခဲ့ပါသည်။ (နောင်တွင် ပြင်ဆင်စာချုပ်ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။)

(ဂ) အဆိုပါမူလစာချုပ်နှင့်ပြင်ဆင်ချက်သဘောတူစာချုပ်ပါ ကုမ္ပဏီအမည်အား ပြောင်းလဲ ပြင်ဆင်ချုပ် ဆိုလိုပါ သည်၊

(ဃ) အဆိုပါကုမ္ပဏီအမည်ပြောင်းလဲစာချုပ်ပြင်ဆင်ခြင်းနှင့်ပတ်သက်၍လုပ်ငန်းမှသဘောတူ ခဲ့ပြီးစက်မှုဝန်ကြီးဌာန(၉.၉.၂၀၁၄)ရက်နေ့ကျင်းပသည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး အမှတ်စဥ် (၁၆ / ၂၀၁၄-၂၀၁၅) ဖြင့် ခွင့်ပြုပြီး ဖြစ်ပါသည်။

သို့ပါ၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် အောက်ပါသဘောတူညီချက်များနှင့်အညီ ဤစာချုပ်ကို ချုပ်ဆိုကြပါသည် -

၁။ မူလစာချုပ်နှင့်ပြင်ဆင်ချက်သဘောတူစာချုပ်မျက်နှာဖုံးပါကုမ္ပဏီအမည်ဝမင်းကုမ္ပဏီလီမိတက် အား ပယ်ဖျက် ၍ အောက်ပါအ မည်ဖြင့် အစားထိုး ရမည် -

-Wa Minn Group of Companies Co.,Ltd

၂။ မူလစာချုပ်နှင့်ပြင်ဆင်ချက်သဘောတူစာချုပ်စာမျက်နှာ(၁)ပါကုမ္ပဏီအမည် ဝမင်းကုမ္ပဏီလီမိတက် အား ပယ်ဖျက် ၍ အောက်ပါအ မည်ဖြင့် အစားထိုး ရမည် -

-Wa Minn Group of Companies Co.,Ltd

၃။ မူလစာချုပ်စာမျက်နှာ(၁၁)နှင့် ပြင်ဆင်ချက် သဘောတူစာချုပ်စာမျက်နှာ(၆)ပါကုမ္ပဏီအမည် ဝမင်းကုမ္ပဏီလီမိတက် အားပယ်ဖျက်၍အောက်ပါ အမည်ဖြင့် အစားထိုး ရမည် -

-Wa Minn Group of Companies Co.,Ltd

၄။ ပြင်ဆင်စာချုပ်၏ ငှားရမ်းခပေးချေခြင်း ခေါင်းစဥ် အပိုဒ်(၉)တွင် အပိုဒ်(၉) (က)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်လိုက်သည် -

၉(က)။ အငှားချထားခြင်းခံရသူသည် ယခုစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ Finacial Year၏နောက်ဆုံးလဖြစ်သော မတ်လ(၁၅)ရက်အတွင်းပေးသွင်းရမည်။ပျက်ကွက်ပါက

နောက်ကျကြေးအဖြစ် တစ်လနောက်ကျတိုင်း ပေးသွင်းရမည့် ငွေ၏ (၀.၅%) (သုညဒသမငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ် သတ်မှတ်၍ နောက်ကျသည့်ရက်တိုင်း တွက်ချက်ပေးဆောင်ရမည်။

၅။ မူလစာချုပ်တွင်မပါဝင်သော အာမခံထားရှိခြင်း ခေါင်းစဉ်အား အပိုဒ်(၂၅)အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံ ဖြည့်စွက်လိုက်သည် -

**အာမခံထားရှိခြင်း**

၂၅။ အငှားချထားခြင်းခံရသူသည် တစ်နှစ်ငှားရမ်းခ၏ ၁၀%နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်မှုအာမခံ (Performance Bank Guarantee)အဖြစ် မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်) တွင်အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

၆။ မူလ စာချုပ်၏အပိုဒ်(၂၅)အားအပိုဒ်(၂၆)အဖြစ်ပြောင်းလဲပြင်ဆင်ရမည်။

၇။ မူလ စာချုပ်၏အပိုဒ်(၂၆)အားအပိုဒ်(၂၇)အဖြစ်ပြောင်းလဲပြင်ဆင်ရမည်။

၈။ ဤကုမ္ပဏီအမည်ပြောင်းလဲပြင်ဆင်ချက်သဘောတူစာချုပ်သည်မူလစာချုပ် နှင့်ပြင်ဆင်ချက်သဘောတူ စာချုပ်၏အစိတ်အပိုင်းတစ်ရပ်အဖြစ် မှတ်ယူရမည်။

၉။ မူလစာချုပ်နှင့်ပြင်ဆင်ချက်သဘောတူစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက် ရောက်မှုရှိစေရမည်။

၁၀။ ဤကုမ္ပဏီအမည်ပြောင်းလဲပြင်ဆင်ချက်သဘောတူစာချုပ်အား ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာ လ( ၃ )ရက်နေ့ တွင် "အငှားချထားသူ" နှင့် " အငှားချထားခြင်းခံရသူ" တို့ တဖက်ပါ အသိသက်သေများရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်-

အငှားချထားသူ(ကိုယ်စား)

ဦးရည်မွန်

ဦးဆောင်ညွှန်ကြားရေးမှူး

စက်ရုံနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

ဒေါက်တာစိုးနိုင်

ညွှန်ကြားရေးမှူး

စီမံရေးဌာန

ဦးထွန်းထွန်း

ညွှန်ကြားရေးမှူး

ထုတ်လုပ်ရေးဌာန

ဒေါ်ခင်မြင့်သီ

ညွှန်ကြားရေးမှူး

ဘဏ္ဍာရေးဌာန

အငှားချထားခြင်းခံရသူ(ကိုယ်စား)

ဦးခွန်နောင်မြင့်ဝေ

Chief Executive Officer

Wa Minn Group of Companies

Co.,Ltd

အသိသက်သေ

ဦးမြင့်ဝေ

၁၂/အစန(နိုင်)၁၂၀၂၂၀

အမှတ်(၆၆၉/စီ)၊

မြကန်သာ(၂)လမ်း၊အမှတ်(၂)ရပ်ကွက်၊

ကမာရွတ်မြို့နယ် ရန်ကုန်မြို့။

ဦးနောင်ခွန်မြင့်ဝေ

၁၂/မရက(နိုင်)၁၂၇၅၈၅

အမှတ်(၆၆၉/စီ)၊မြကန်သာ(၂)လမ်း၊

(၂)ရပ်ကွက်၊ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

ကန့်သတ်

# စက်မှုဝန်ကြီးဌာန

# မြန်မာ့အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

# Wa Minn Co.,Ltd

တို့

ချုပ်ဆိုသော

# ကြွေရည်စိမ်ပစ္စည်းစက်ရုံ (မရမ်းကုန်း) အား
# ငှားရမ်းဆောင်ရွက်သည့်
# သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ စက်တင်ဘာလ (     ) ရက်

ကန့်သတ်

## မြန်မာ့အိမ်သုံးပစ္စည်းလုပ်ငန်း နှင့် Wa Minn Co.,Ltd
## တို့၏
## ကြွေရည်စိမ်ပစ္စည်းစက်ရုံ (မရမ်းကုန်း)
## စက်ရုံနှင့်စက်ပစ္စည်းကိရိယာများ ငှားရမ်းသည့် သဘောတူစာချုပ်

ဤ စာချုပ်ကို နေပြည်တော်တွင် ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ(၂၀)ရက်နေ့၌ ဦးမောင်မောင်တိုး ကိုယ်စားပြုသော မြန်မာ့အိမ်သုံးပစ္စည်းလုပ်ငန်း (နောင်တွင်အငှားချထားသူဟုခေါ်တွင်စေပြီး ယင်းဖော်ပြချက်တွင် အဆိုပါလုပ်ငန်းအား ဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်) ကတစ်ဖက်

နှင့်

ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြကန်သာ(၂)လမ်း၊ (၂)ရပ်ကွက်၊ အမှတ်( ၆၆၉/စီ)နေ ဦးခွန်နောင်မြင့်ဝေ၊ အမျိုးသားမှတ်ပုံတင်အမှတ်(၁၂/အစန(နိုင်)၀၂၀၄၇၅)ကိုယ်စားပြုသော Wa Minn Co.,Ltd (နောင်တွင် အငှားချထားခြင်းခံရသူဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်းတို့ ဆက်ခံသူများ၊ တရားဝင်ကိုယ်စား လှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်။) က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးသဘောတူ စာချုပ်ချုပ်ဆိုကြပါသည်။

**အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း**

၁။ 'အငှားချထားသူ' သည် နောက်ဆက်တွဲတွင် အသေးစိတ်ဖော်ပြထားသော စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများကို ပိုင်ဆိုင်သူ ဖြစ်ပြီး 'အငှားချထားခြင်းခံရသူ' သည် စာချုပ်ကို အကောင် အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူ ဖြစ်သည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။

**အငှားချထားမည့်ပစ္စည်းများ**

၂။ 'အငှားချထားခြင်းခံရသူ' သည် အောက်ပါ 'အငှားချထားသူ ' ပိုင် စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများကို ငှားရမ်း၍ ကြွေရည်စိမ်ပစ္စည်းမျိုးမျိုးထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်း လုပ်ငန်း များ ဆောင်ရွက်မည်ဖြစ်ပါသည် -

(က) စက်ရုံအမည်နှင့် တည်နေရာ - ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)
အမှတ်(၁၁၆)၊ သမိုင်းဘူတာရုံလမ်း၊
အမှတ်(၂)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ကန့်သတ်

| | | | |
|---|---|---|---|
| (ခ) | မြေ | - | ၆, ၁၀၅ ဧက |
| (ဂ) | အဆောက်အဦများ | - | နောက်ဆက်တွဲ (က) |
| (ဃ) | စက်ပစ္စည်းကိရိယာများ | - | နောက်ဆက်တွဲ (ခ) |
| (င) | ရုံးသုံးပစ္စည်းများ | - | နောက်ဆက်တွဲ (ဂ) |
| (စ) | ရုံးသုံးပရိဘောဂများ | - | နောက်ဆက်တွဲ (ဃ) |
| (ဆ) | မော်တော်ယာဉ်စာရင်း | - | နောက်ဆက်တွဲ (င) |

**ငှားရမ်းမည့်အချိန်ကာလ**

၃။ ငှားရမ်းမည့်အချိန်ကာလမှာ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ (၁) ရက်နေ့မှ ၂၀၂၁ ခုနှစ်၊ စက်တင်ဘာလ(၃၀)ရက်နေ့အထိ (၁၀)နှစ်ကာလဖြစ်သည်။

**စာချုပ်သက်တမ်း**

၄။ ၂၀၁၁ ခုနှစ် အောက်တိုဘာလ(၁)ရက်နေ့မှ ၂၀၂၁ ခုနှစ်စက်တင်ဘာလ (၃၀) ရက်နေ့အထိ (၁၀)နှစ် ဖြစ်ပါသည်။

**လွှဲပြောင်းပေးမည့်ဝန်ထမ်းများ**

၅။ လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | လစာနှုန်း | ဦးရေ |
|---|---|---|
| (က) | ၁၆၀၀၀၀-၂၀၀၀-၁၇၀၀၀၀ | ၁ |
| (ခ) | ၁၂၀၀၀၀-၂၀၀၀-၁၃၀၀၀၀ | ၅ |
| (ဂ) | ၁၀၀၀၀၀-၂၀၀၀-၁၁၀၀၀၀ | ၇ |
| (ဃ) | ၆၅၀၀၀-၁၀၀၀-၇၀၀၀၀ | ၈ |
| (င) | ၅၉၀၀၀-၁၀၀၀-၆၄၀၀၀ | ၁၉ |
| (စ) | ၅၃၀၀၀-၁၀၀၀-၅၈၀၀၀ | ၁၅ |
| (ဆ) | ၄၇၀၀၀-၁၀၀၀-၅၂၀၀၀ | ၈၁ |
| (ဇ) | ၄၁၀၀၀-၁၀၀၀-၄၆၀၀၀ | ၂၃ |
| (ဈ) | ၃၅၀၀၀-၁၀၀၀-၄၀၀၀၀ | ၁၉ |
| (ည) | နေ့စား | ၆ |
| | စုစုပေါင်း | ၁၈၄ |

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

**၆။** လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့် ပတ်သက်၍ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်-

(က) စက်ရုံရှိ လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို လစဉ် လစာထုတ်ရက်တွင် ထုတ်ပေးရမည်။

(ခ) အကြောင်းအရာတစ်စုံတစ်ရာကြောင့် လစာနှုန်းထားများ ပြောင်းလဲခဲ့လျှင် ပြောင်းလဲသည့်နှုန်းထား အတိုင်းထုတ်ပေးရမည်။

(ဂ) အခါအားလျော်စွာ ရာထူးတိုးမြှင့်ခြင်း၊ နှစ်တိုးတိုးမြှင့်ခြင်းခံရသော ဝန်ထမ်းများအတွက် တိုးမြှင့် လစာနှင့် နှစ်တိုးကိုခံစားခွင့်ပြုရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ဆက်လက်တာဝန် ပေးအပ်ရမည်။

(င) ဝန်ထမ်းများ၏ လစာ၊ နှစ်တိုး၊ စရိတ်များအား နိုင်ငံတော်၏ ခွင့်ပြုနှုန်းထားများ အတိုင်း အငှားချထားခြင်းခံရသူမှ ဆက်လက်ပေးဆောင်ရမည်။ မူရင်းလစာအား နိုင်ငံတော် သတ်မှတ်နှုန်းထားထက် ပို၍ မပေးရ။ ဆုကြေးနှင့် စရိတ်များအား အငှားချ ထားခြင်း ခံရသူမှ သင့်လျော်သလို ပေးနိုင်သည်။

(စ) ဝန်ထမ်းများ ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်းဆိုင်ရာ ကိစ္စရပ်များအား အငှားချထားသူ၏ စီမံမှုဖြင့်သာ ဆောင်ရွက်ရမည်။

(ဆ) ဝန်ထမ်းများ ရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များအား နိုင်ငံတော်မှ သတ်မှတ်ထားသည့် ဝန်ထမ်းစည်းမျဉ်းများနှင့်အညီ နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဇ) ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ ဝန်ထမ်းများ နစ်နာမှုမရှိစေရေးအတွက် နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဈ) စက်ရုံလွှဲပြောင်းသည့်အခါ ပါရှိသော ဝန်ထမ်းများအနက် ရာထူးမှ နုတ်ထွက်လိုခြင်း၊ နှစ်ပြည့် (သို့မဟုတ်) သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက အငှားချထားသူထံ တင်ပြရမည်။

(ည) စက်ရုံဝန်ထမ်းအား အငှားချထားသည့် စက်ရုံနှင့်ပတ်သက်သည့် လုပ်ငန်းတာဝန်ကိုသာ ပေးအပ်ရမည်။

(ဃ) ဝန်ထမ်းများ၏ လူမှုဖူလုံရေးအကျိုးခံစားခွင့်ရရှိရေးအတွက် အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်။

(င) ဝန်ထမ်းများ၏ သက်သာချောင်ချိရေးကိစ္စများကို အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်။

(စ) ဝန်ထမ်းများရာထူးအန္တယ် (Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန်အချိန်ကျ ရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စများကို အငှားချထားသူမှ ဆောင်ရွက်ရမည်။

(ဆ) ဝန်ထမ်းများ အလုပ်ခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက အငှားချထားခြင်းခံရသူမှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဇ) ဝန်ထမ်းရေးရာကိစ္စများနှင့် ပတ်သက်၍ မြန်မာ့အိမ်သုံးပစ္စည်းလုပ်ငန်း ဦးဆောင်ညွှန်ကြားရေးမှူး ဥက္ကဋ္ဌဖြင့် ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင်ရွက်ရမည်။

ငှားရမ်းခနှုန်းထား

၇။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၂)ပါ စက်ရုံ၊ မြေ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂများ အပါအဝင် တစ်နှစ်လျှင် ကျပ် (၁၅၀. ၀၀၀)သန်း (ကျပ်သန်းတစ်ရာ့ ငါးဆယ်တိတိ) ဖြစ်ပါသည်။

၈။ ငှားရမ်းခအား (၆)လတစ်ကြိမ်ပြန်လည်သုံးသပ်၍ နှစ်ဦးသဘောတူညီနိုင်ပြီး အမှတ်(၁) စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအတည်ပြုချက်ဖြင့် ပြင်ဆင်သတ်မှတ်နိုင်သည်။

ငှားရမ်းခပေးချေခြင်း

၉။ အငှားချထားခြင်းခံရသူသည် (၁)နှစ်အတွက် ငှားရမ်းခကျသင့်ငွေ ကျပ်(၁၅၀)သန်းကို Budget Financial Year နှင့် ပေးသွင်းရမည်။

၁၀။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူသည် လိုအပ်ပါက(၃)လလျှင်တစ်ကြိမ် လုပ်ငန်းဆောင်ရွက်မှုအခြေအနေများအား ပြန်လည်သုံးသပ်၍ ငှားရမ်းခပေးချေမည့် အစီအစဉ်အား အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ ဆုံးဖြတ်မှုဖြင့် ပြန်လည်ပြင်ဆင် ဆောင်ရွက်နိုင်သည်။

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ**

၁၁။ 'အငှားချထားခြင်းခံရသူ' ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးကိရိယာများနှင့် အခြားပရိဘောဂများကို နောက်ဆက်တွဲ(က)မှ (င) အထိပါအတိုင်း ငှားရမ်းဆောင်ရွက်ရမည်။

(ခ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်မှစ၍ စက်ရုံနှင့် ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများအားလုံးအား စာရင်းစစ်အစစ်ဆေးခံနိုင်ရေးနှင့် အခြားလိုအပ်သည်များဆောင်ရွက်နိုင်ရန် စက်ရုံစတင်ငှားရမ်းသည့်နေ့ထိရှိသည့် အတိုင်း စနစ်တကျထိန်းသိမ်း ဆောင်ရွက်ရမည်။

(ဂ) စက်ရုံအဆောက်အဦနှင့် စက်ပစ္စည်းများအား လိုအပ်သည့် ပြင်ဆင်မွမ်းမံခြင်းများ ဆောင်ရွက်ရမည်။

(ဃ) လုပ်ငန်းများတိုးချဲ့ခြင်းနှင့် စက်ပစ္စည်းများထပ်မံတိုးချဲ့တပ်ဆင်ခြင်းများကို အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(င) အငှားချထားသည့် စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက်အတွင်း အချိန်မီ ပေးဆောင်ရမည်ဖြစ်ပြီး၊ ပေးဆောင်ထားသည့် ပြေစာအထောက်အထား မိတ္တူများအား အငှားချထားသူထံ လစဉ်ပေးပို့ရမည်။

(စ) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာထားရှိရမည်။

(ဆ) အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက်မရရှိဘဲ အဆောက်အဦပိုင်းဆိုင်ရာ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်းများမပြုလုပ်ရ။

(ဇ) အငှားချထားသည့် ပစ္စည်းများကို တဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ သို့မဟုတ် တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်း စသည်တို့လုံးဝ မပြုလုပ်ရ။

(ဈ) အငှားချထားသည့် စက်ရုံ၏အခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူး

ရောင်းချ သည့် ပစ္စည်းများ၏ အရည်အသွေးကိုလည်းကောင်း၊ စစ်ဆေးရန်လိုအပ်ပါက အငှားချထားသူက နည်းလမ်းတကျလုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ် များကို ဝင်ရောက်ခွင့်ပြုရမည်။

(ည) အငှားချထားသည့် ပစ္စည်းများနှင့်ပတ်သက်၍ မြေခွန်မှအပ စည်ပင်သာယာခွန်နှင့် အခြား အခွန်အခများ နှင့် ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးကို ကျခံ ပေးဆောင်ရမည်။

(ဋ) ဤအငှားစာချုပ်သက်တမ်းကုန်သည့်အခါ အငှားချစက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေအတိုင်း ပြုပြင်မွမ်းမံထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုးအကြောင်း ဆီလျော်မှုရှိသောပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဌ) စက်ရုံငှားရမ်းရေး စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (၁၅) ရက်အတွင်း အငှားချ ထားသူအား အငှားချထားသည့် ပစ္စည်းအားလုံးကို ငှားရမ်းစဉ်အခြေအနေအတိုင်း အဖိုးစားနားမပါရှိဘဲ အငှားချထားသူ၏လက်ဝယ်အရောက် လွှဲပြောင်းပေးအပ်ရမည်။

(ဍ) အငှားချထားသည့် စက်ရုံတွင်တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံး သည် ငှားရမ်းခြင်းစာချုပ် သက်တမ်းကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန် မလိုဘဲ အငှားချထားသူပိုင် ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍ မိမိတပ်ဆင်ထားသော ပစ္စည်းအား အငှားချသည့် အဆောက်အဦ လွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ် ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်းမပြုမီက တည်းက နှစ်ဖက်ညှိနှိုင်းအတည်ပြုချက်ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့်အခြားရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများကိုမူ ထားခဲ့ရန် မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(ဎ) စက်ရုံကိုလက်ခံသည့်နေ့တွင် စက်ရုံ၌ရှိသော ကုန်ကြမ်းများ စက်အရန်ပစ္စည်းများ၊ စက်သုံးဆီများအစရှိသည့် ကုန်ခမ်းနိုင်သည့်ပစ္စည်းများကို ဆက်လက်အသုံးပြုလိုပါက နှစ်ဖက်ညှိနှိုင်း၍ သတ်မှတ်ထားသည့် တန်ဖိုးဖြင့် ဝယ်ယူပြီးအသုံးပြုနိုင်ခွင့်ရှိသည်။

(ဏ) ကုန်ချောပစ္စည်းများကို သတ်မှတ်စက်စွမ်းအားထက်မကျော်လွန်စေဘဲ ထုတ်လုပ်ခွင့် ရှိပြီး ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့်ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(တ) စက်ရုံမှ လက်ရှိထုတ်လုပ်နေသော ကုန်အမှတ်တံဆိပ်ကိုဆက်လက်အသုံးပြုပါက အရည်အသွေးကျဆင်းမှုမရှိစေရန် စံချိန်စံညွှန်းနှင့်ကိုက်ညီသောကုန်ကြမ်းများကို သတ်မှတ်ထားသော အချိုးအစားအတိုင်းအသုံးပြုထုတ်လုပ်ရမည်။

(ထ) မိမိ၏ ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါ ကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကိုချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် အငှားချထားခြင်းခံရသူ၏ တာဝန်သာဖြစ်သည်။

(ဒ) စက်ရုံမှ မထုတ်လုပ်ဘူးသော ကုန်ပစ္စည်းအမယ်သစ်ကို ထုတ်လုပ်လိုပါက အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက်ရပြီးမှသာ ထုတ်လုပ်နိုင်ခွင့်ရှိသည်။

(ဓ) အငှားချထားသည့်စက်ရုံအတွက် အလုံးစုံအာမခံကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် အညီ ထားရှိရမည်ဖြစ်ပြီး ၊ အာမခံသက်တမ်းကျော်လွန်မှု မရှိစေရေး တာဝန်ယူ ဆောင်ရွက်ရမည်။

(န) အငှားချထားသည့်စက်ရုံမှ ထွက်ရှိသောအခိုးအငွေ့များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထု ၊ လေထု တို့ကိုညစ်ညမ်းအောင်မပြုရ။

(ပ) အငှားချထားခြင်းခံရသူသည် ငှားရမ်းစက်ရုံနှင့်ပတ်သက်၍ ပတ်ဝန်းကျင်အတွက် အနှောက်အယှက်ဖြစ်စေမည့် ဆူညံသံများ၊ အခြား အနှောက်အယှက်ဖြစ်စေမည့် အန္တရာယ်ကိုကြိုတင်ကာကွယ်တားဆီးရမည်။ အကယ်၍ မလွှဲမရှောင်သာ၍ ဖြစ်ပွားပါကအငှားချထားခြင်းခံရသူကကိစ္စကျေနပ်ပြီးဆုံးသည့်တိုင်အောင်တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(ဖ) အငှားချထားသည့် စက်ရုံတွင်ခွင့်ပြုထားသည့် လုပ်ငန်းမှအပ ဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

(ဗ) အငှားချထားခြင်းခံရသူမှ ဆောင်ရွက်မည့် လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာ များ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး အငှားချထားသူထံမိတ္တူတစ်စုံအပ်နှံထားရမည်။

(ဘ) စက်ကိရိယာများအား အမှန်တကယ်ထုတ်လုပ်နိုင်သည့် သတ်မှတ်စက်စွမ်းအားထက် ကျော်လွန်ထုတ်လုပ်ရန် အသုံးမပြုရ၊ သတ်မှတ်ထားသည့် စက်ကြံ့ခိုင်ရေးများပြုလုပ်ရန် သင့်လျော်သော စက်ရပ်နားချိန်များ သတ်မှတ်ထားရမည်။

(မ) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်၊ ဓါတ်ဆီတို့အား အငှားချထားခြင်းခံရသူ၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။

(ယ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့အတွက် ကျသင့်ငွေများအား စွမ်းအင်ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထား အတိုင်းပေးချေရမည်။

(ဃ) ကော်ရှုံနှိုး မော်တော်ယာဉ်များနှင့်ပတ်သက်၍ စက်သုံးဆီနှင့်ပြုပြင်ထိန်းသိမ်းမှုများကို အငှားချထားခြင်းခံရသူမှ တာဝန်ယူဆောင်ရွက်ပေးရမည်။

**အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

[illegible] အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာအောက်ပါအတိုင်းဖြစ်ပါသည်-

(က) အငှားချထားခြင်းခံရသူအား အငှားချထားသည့် ပစ္စည်းများကို အသုံးပြု၍ ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ရေ၊ တယ်လီဖုန်းတို့ကို အငှားချခြင်းခံရသူအား ဆက်လက်အသုံးချခွင့်ပြုရမည်။

(ဂ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ရေ၊ တယ်လီဖုန်းတို့ကို အငှားချခြင်းခံရသူအားဆက်လက်အသုံးချခွင့်ပြုရမည့်အပြင် စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား အငှားချထားခြင်းခံရသူမှ လစဉ် အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။

(ဃ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက်လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့များ ရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) အငှားချထားသည့် စက်ရုံအခြေအနေများကို လည်းကောင်း ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့် ပစ္စည်းများကို လည်းကောင်း နည်းလမ်းတစ်ကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များစေလွှတ်၍ စစ်ဆေးနိုင်ခွင့်ရှိသည်။

(စ) စက်ရုံအတွက်ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရမည်။

(ဆ) အငှားချထားသည့်စက်ရုံနှင့် သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်း ကျော်လွန်မှု မရှိစေရေးကြပ်မတ်ဆောင်ရွက်ရမည်။

**စာချုပ်သက်တမ်းတိုးခြင်း**

[illegible] အငှားချထားခြင်းခံရသူသည် စက်ရုံငှားရမ်းရေးစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက် အငှားချ ထားသည့်စက်ရုံကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ်ငှားရမ်းလိုသည့်ကာလနှင့် ငှားရမ်းခနှုန်းထားကို ဖော်ပြလျက် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် အငှားချထားသူထံ စာချုပ်သက်တမ်းမကုန်ဆုံးမီ(၃) လ ကြိုတင်၍စာဖြင့်တင်ပြရမည်။ ထပ်မံငှားရမ်းမည့်ကာလအတွက် နှစ်စဉ်ငှားရမ်းခနှုန်းထားကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းသက်မှတ်ရမည်။ စာချုပ်သက်တမ်းတိုးခြင်း၊ စာချုပ်အတည်ဖြစ်ခြင်း ၊ စာချုပ်

ဆောင်ခြင်း စာချုပ်ရပ်စဲခြင်းတို့သည် အမှတ်(၁)စက်မှုဝန်ကြီးဌာန စီမံခန့်ခွဲရေးကော်မတီ၏ အတည်ပြုချက်ရရှိသော အတည်ဖြစ်စေရမည်။

အငြင်းပွားမှုဖြေရှင်းခြင်း

ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသော နည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက်ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်းမရနိုင်ပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

သဘာဝပစ္စည်းဆိုင်ရာကိစ္စ

ဤစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့် မြေ၏မြေပေါ်မြေအောက်မှ ရှာဖွေတွေ့ရှိသည့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတပစ္စည်း ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့ တွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားသူက ပိုင်ဆိုင်ရမည့်အပြင် အငှားချထားသူသည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရ ဥပဒေနည်းသို့ လွှဲပြောင်းတင်ပြရမည်။ အငှားချထားသူသည် အဆိုပါ သယံဇာတပစ္စည်းများကို မည်သည့် အချိန်တွင် မဆိုလွတ်လပ်စွာ တူးဖော်ပိုင်ခွင့်ရှိစေရမည်။

ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်း ကာလကုန်ဆုံးသည့် အခါ (သို့မဟုတ်) ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့ မှ ရက်အတွင်း အငှားချထားသည့်စက်ရုံ၊ မြေ၊ အဆောက်အဦနှင့်စက်ကရိယာများကို အငှား ချထားသူသို့ အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ် ရမည်။

မဆန်နိုင်သည့်ဖြစ်ရပ်များ

ကျွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် နှစ်ဦးနှစ်ဖက်ဖက်က လိုအပ်သောသတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင်

အငှားချထားခြင်းခံရသူသည် အငှားချထားသူတို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ ၊

[illegible] ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၃) ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ခြင်း စာဖြင့်ရေးသားအကြောင်း ကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ပြောက်ပြီး စက်ရုံ ပစ္စည်း အဆောက်အဦနှင့်စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက် ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

စာချုပ်အတည်ဖြစ်ခြင်း

[illegible] ဤစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ လက်မှတ်ရေးထိုးပြီးသည့် နေ့မှ၍ အတည်ဖြစ်သည်။

စာချုပ်ပြင်ဆင်ခြင်း

[illegible] ဤစာချုပ်ပါစည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ပြုလုပ်လိုပါက အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့၏ နှစ်ဦးနှစ်ဖက်တရားဝင်စာဖြင့်သဘောတူညီချက်နှင့် နံပါတ်(၁)စက်မှုဝန်ကြီးဌာနစီမံခန့်ခွဲရေးကော်မတီ၏ အတည်ပြုချက်အရသာ ပြုလုပ်နိုင်သည်။

[illegible] အငှားချထားသည့်ခံရသူမှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရတွက်ချေကိုက်မှုမရှိခြင်း၊ ကြီးမားသော အဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လ ကြိုတင်အကြောင်းကြားရမည်။

စာချုပ်ရုပ်စဲခြင်း

[illegible] စာချုပ်ရုပ်စဲခြင်းနှင့်ပတ်သက်၍ အောက်ပါအကြောင်းအရပ်များတစ်ခုခု ဖြစ်ပေါ်လာပါက စာချုပ်ကို ရုပ်စဲခွင့်ရှိသည်-

(က) မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း အစရှိသော မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့်ဖြစ်စေ အငှားချထားသည့်စက်ရုံရှိ ပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်း ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(ခ) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အားရုပ်စဲလိုပါက ရုပ်စဲလိုကြောင်းစာချုပ်ဝင် တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ (၃)လကြိုတင်နို့တစ်ပေးခြင်း။

(ဂ) စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို အငှားချထားခြင်းခံရသူမှ ဖောက်ဖျက် ကျူးလွန်ခြင်း။

(ဃ) အငှားချထားခြင်းခံရသူက လူမွဲအဖြစ်ခံယူသွားခြင်း။

(င) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

၂၃။ စာချုပ်သက်တမ်းမ ကုန်ဆုံးသေးသော်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရ ဖြစ်စေ၊ ပုဂ္ဂလိက ပိုင်မြေလုပ်ရန်ဖြစ်စေ အငှားချထားသူမှ (၃) လ ကြိုတင်အကြောင်းကြား၍ စာချုပ်ကို ရုပ်သိမ်းနိုင်သည်။ ယင်းသို့ဆောင်ရွက်ရာတွင် အမှတ်(၁)စက်မှုဝန်ကြီးဌာန စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည်ပြုချက် ရယူရမည်။

## ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၂၄။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် အငှားချထားသူကယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့) လိုက်နာရန် အငှားချထားခြင်းခံရသူသို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်းလိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားချထားသည့်စက်ရုံကို ပြန်လည်ဝင်ရောက် လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခ(သို့) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၂၅။ ဤစာချုပ်တွင်ပါရှိသော မြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၂၆။ အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေ အစုံအလင် ရှေ့မှောက်တွင် ၂၀၁၁ ခုနှစ်၊ စက်တင်ဘာလ(၂၀)ရက်နေ့၌ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ လက်မှတ်ရေးထိုး ကြပါသည်-

အငှားချထားသူ(ကိုယ်စား)

ဦးမောင်မောင်တိုး
ဦးဆောင်ညွှန်ကြားရေးမှူး
(မြန်မာ့ကိမ်သုံးပစ္စည်းလုပ်ငန်း)

အငှားချထားခြင်းခံရသူ(ကိုယ်စား)

ဦးခွန်နောင်မြင့်ဝေ
Managing Director
(Wa Minn Co.,Ltd)

ကန့်သတ်

(၂)
(မူရင်း)

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## စက်မှုဝန်ကြီးဌာန

## စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

## ဝမင်းကုမ္ပဏီလီမိတက်

တို့

ချုပ်ဆိုသော

## ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)အား
## ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ်
## သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇန်နဝါရီလ (၃၀)ရက်

ကန့်သတ်

repair.contracts\repair contracts\enamel.my.gn

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# စက်မှုဝန်ကြီးဌာန

# စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

# နှင့်

# ဝမင်း ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသော

# ကြွေရည်စိမ်ပစ္စည်းစက်ရုံ (မရမ်းကုန်း) အားငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

# ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ် ဇန်နဝါရီ လ (၃၀)ရက်နေ့တွင် နေပြည်တော်ရှိ ဦးရည်မွန် ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း( နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများနှင့် ဥပဒေ အရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်နှင့် ဦးခွန်နောင်မြင့်ဝေ၊ အမျိုးသားမှတ်ပုံတင်အမှတ် ၊ ၁၂/အစန(နိုင်) ၀၂၀၄၇၅ ကိုယ်စားပြုသော ဝမင်းကုမ္ပဏီလီမိတက် အမှတ်(၆၆၉/စီ)မြကန်သာ(၂) လမ်း၊အမှတ်(၂)ရပ်ကွက်၊ ကမာရွတ်မြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး (နောင်တွင် အငှားချထားခြင်းခံရသူဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ တရားဝင် ကိုယ်စားလှယ်များ ၊ ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများ ပါဝင်သည်။ ) က အခြားတစ်ဖက် တို့သည် -

(က) ရန်ကုန်တိုင်းဒေသကြီး၊မရမ်းကုန်းမြို့နယ်၊အမှတ် (၂)ရပ်ကွက်၊ သမိုင်းဘူတာရုံလမ်း ၊ အမှတ်(၁၁၆) ရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)၏မြေ(၆.၁၀၅)ဧကနှင့် စက်ရုံ၊ အဆောက် အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဉ်များနှင့် အခြားပစ္စည်း များကို (၁၀)နှစ် သက်တမ်း ငှားရမ်း၍ ကြွေရည်စိမ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်း ၊ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် သဘောတူစာ ချုပ်ကို ၂၀၁၁ ခုနှစ် စက်တင်ဘာ(၂၀)ရက်နေ့တွင် နှစ် ဦးသဘောတူစာချုပ်(နောင်တွင် မူလစာချုပ် ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။)ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့လုပ်ငန်းဆောင်ရွက်ရာတွင် ငှားရမ်းခတိုးမြှင့်၍ နှစ်ရှည်ငှားရမ်းမည့် ပြင်ဆင် ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်း ဖြစ်ပါသည်။ မူလစာ ချုပ်၏ သက်တမ်းကို (၁.၁၀.၂၀၁၁)မှ (၃၀.၉.၂၀၃၁)ထိ (၂၀)နှစ် သက်တမ်းတိုးမြှင့် လိုပါသည်။

(ဂ) အဆိုပါစာချုပ်ပြင်ဆင်ခြင်းနှင့်ပတ်သက်၍ လုပ်ငန်းမှသဘောတူခဲ့ပြီးစက်မှုဝန်ကြီးဌာန (၁၉.၉.၂၀၁၃)ရက်နေ့ကျင်းပသည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး အမှတ်စဥ် (၈၂/၂၀၁၃-၂၀၁၄) ဖြင့် ခွင့်ပြုပြီး ဖြစ်ပါသည်။

(ဃ) သက်တမ်းတိုးမြှင့်ခြင်းနှင့်ပတ်သက်၍အစိုးရအဖွဲ့မှ ခွင့်ပြုသောမူလငှားရမ်းသက်တမ်း (၅)နှစ်မှ နောက်ထပ် (၁၅)နှစ် တိုးမြှင့်ပြီး သက်တမ်း(၂၀)နှစ်အထိ ငှားရမ်းရေးကိစ္စကို (၃၀.၁၀.၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်း အဝေးအမှတ်စဥ် (၃၀/၂၀၁၃)မှ သဘောတူခွင့်ပြုပြီး ဖြစ်ပါသည်။

(င) ငှားရမ်းခအား(၁)နှစ်လျှင် ကျပ်(၁၅၁၁.၅၀၀)သန်းသို့ တိုးမြှင့်မှုနှင့်ပတ်သက်၍ စက်မှုဝန်ကြီးဌာန၏ (၂၉.၁.၂၀၁၄)ရက်နေ့တွင် ကျင်းပသည့်ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးအမှတ်စဥ် (၂၁/၂၀၁၃-၂၀၁၄)ဖြင့် ခွင့်ပြုပြီးဖြစ်ပါသည်။

သို့ပါ၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် အောက်ပါသဘောတူညီချက်များနှင့်အညီ ဤစာချုပ်ကို ချုပ်ဆိုကြပါသည် -

၁။ မူလစာချုပ်အပိုဒ်(၂)ပါ အပိုဒ်ခွဲ (ဃ)၊(င) နှင့် (စ) အား ပယ်ဖျက်၍ အောက်ပါအပိုဒ်ဖြင့် အစားထိုး ရမည် -

(ဃ) စက်ပစ္စည်းကိရိယာများ - နောက်ဆက်တွဲ(ခ)

(င) ရုံးသုံးပစ္စည်းများ - နောက်ဆက်တွဲ(ဂ)

(စ) ရုံးသုံးပရိဘောဂများ - နောက်ဆက်တွဲ(ဃ)

၂။ မူလစာချုပ် ငှားရမ်းမည့်အချိန်ကာလ ခေါင်းစဥ်အောက်ရှိ အပိုဒ်(၃)အား ပယ်ဖျက်၍ အောက်ပါအပိုဒ်ဖြင့် အစားထိုး ပြင်ဆင်လိုက်သည်-

၃။ ငှားရမ်းမည့်အချိန်ကာလမှာ ၂၀၁၃ခုနှစ် အောက်တိုဘာလ (၁)ရက် နေ့မှ ၂၀၃၃ ခုနှစ် စက်တင်ဘာလ(၃၀)ရက်နေ့ထိ (၂၀)နှစ် ကာလဖြစ်သည်။

ကန့်သတ်

၃

၃။ မူလစာချုပ်၏ စာချုပ်သက်တမ်း ခေါင်းစဉ်အား စာချုပ်သက်တမ်းနှင့် အငှားချထားခြင်းခံရသူမှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်ဟု ပြင်ဆင်ပြီး၊ ၎င်းမူလအပိုဒ်(၄)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်များဖြင့် အစားထိုးရမည်-

စာချုပ်သက်တမ်းနှင့် အငှားချထားခြင်းခံရသူမှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်

၄။ စာချုပ်သက်တမ်းနှင့် အငှားချထားခြင်းခံရသူမှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စာချုပ်သက်တမ်းမှာ ၂၀၁၁ခုနှစ်၊ အောက်တိုဘာလ (၁) ရက်နေ့မှ ၂၀၃၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်နေ့ထိ (၂၀)နှစ်ဖြစ်ပါသည်။

(ခ) "အငှားချထားခြင်းခံရသူ"သည် စက်ရုံအားငှားရမ်းပြီး ကြွေရည်စိမ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းအပြင် စက်ရုံဝန်းအတွင်း၌ အထည်ချုပ်လုပ်သည့်လုပ်ငန်း၊ စတီးလ်ပစ္စည်းထုတ်လုပ်သည့်လုပ်ငန်း စသည်ဖြင့် လုပ်ငန်းများတိုးချဲ့ခြင်း၊ စက်ပစ္စည်းများ ထပ်မံတိုးချဲ့တပ်ဆင်ခြင်း၊ ကုန်ပစ္စည်းအမယ်သစ်၊ လုပ်ငန်းသစ်များ ဆောင်ရွက်ရန် ရည်ရွယ်၍ စုစုပေါင်းကျပ်(၁၀၀ ၂၆.၇၀၀)သန်း ရင်းနှီးမြှုပ်နှံရန် ရည်မှန်းပါသည်။

၄။ မူလစာချုပ်ပါ ဝန်ထမ်းရေးရာကိစ္စရပ်များခေါင်းစဉ်အောက်ရှိ အပိုဒ်(၆)အပိုဒ်ခွဲ(ည)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

၆(ည)။ စက်ရုံဝန်ထမ်းအား အငှားချထားသည့်စက်ရုံနှင့်ပတ်သက်သည့် လုပ်ငန်းတာဝန်ကိုသာပေးအပ်ရမည်။ အကယ်၍ ဤစက်ရုံ၏ ပြင်ပလုပ်ငန်းနေရာများသို့ ပြောင်းရွှေ့ခြင်းကို "အငှားချထားသူ"၏ သဘောတူညီမှုဖြင့် ဆောင်ရွက်ရမည်။

၅။ မူလစာချုပ် ငှားရမ်းခနှုန်းထား ခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

၇။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၂)ပါစက်ရုံမြေ၊အဆောက်အဦ၊ စက်ပစ္စည်းကိရိယာ၊ရုံးသုံးပစ္စည်း၊ ပရိဘောဂ၊ မော်တော်ယာဥ်များအပါအဝင်တစ်နှစ်လျှင် ကျပ် (၁၅၁.၅၀၈)သန်း (ကျပ်တစ်ရာ့ငါးဆယ့်တစ်သန်းငါးသိန်းတိတိ) ဖြစ်ပါသည်။ ငှားရမ်း ခနှုန်းထားသည် ၂၀၁၄ ခုနှစ် ဇန်နဝါရီလ (၁)ရက်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

ကန့်သတ်

၆။ မူလစာချုပ် ငှားရမ်းခနှုန်းထား ခေါင်းစဉ်အောက်ရှိ အပိုဒ်(ဂ)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်–

ဂ။ ငှားရမ်းခအားတစ်နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်၍ နှစ်ဦးသဘောတူညီနိုင်ပြီးစက်မှုဝန်ကြီးဌာန၊ပစ္စည်းဝယ်ယူရောင်းချရေးနှင့် စာရင်းရေးဆိုင်ရာ ကော်မတီ၏အတည်ပြုချက်ဖြင့် ပြင်ဆင်သတ်မှတ်နိုင်သည်။ ထိုသို့ရာတွင် ငှားရမ်းခတိုးခြင်း/လျှော့ခြင်းနှင့်စပ်လျဉ်း၍ ယခင်နောက်ဆုံးငှားရမ်းခ၏ (၂%)ထက်ပိုပြီး တိုးမြှင့်ခြင်း/လျှော့ ခြင်းမပြုရ။

၇။ မူလစာချုပ် ငှားရမ်းခပေးချေခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(ဉ)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်–

ဉ။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၂)ပါ စက်ရုံ၊ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာ၊ ရုံးသုံးပစ္စည်း၊ ပရိဘောဂ၊ မော်တော်ယာဉ်များ အပါအဝင် တစ်နှစ်လျှင် ကျပ် (၁၅၁.၅၀၀)သန်း (ကျပ် တစ်ရာ့ငါးဆယ့်တစ်သန်းငါးသိန်းတိတိ)ကို Budget Financial Year နှင့် ပေးသွင်းရမည်ဖြစ်ပါသည်။ ငှားရမ်းခနှုန်းထားသည် ၂၀၁၄ ခုနှစ်ဇန်နဝါရီလ (၁)ရက် နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

၈။ မူလစာချုပ် အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်၁၁(ဃ)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်–

၁၁(ဃ)။ အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ရေပိုက်သွယ်တန်းခြင်း၊ တယ်လီဖုန်းဆက်သွယ်ခြင်းကို မိမိစရိတ်ဖြင့် ဆောင်ရွက်နိုင်သည်။စာချုပ်သက်တမ်းကုန်ဆုံးပါက (သို့မဟုတ်) အငှားစာချုပ်ရပ်စဲခြင်း ဖြစ်ပါက အဆောက်အဦခိုင်ခံ့မှုကို မထိခိုက်စေဘဲအလွယ်တကူဖြုတ်ယူနိုင်သည့် အဆိုပါပစ္စည်းများကိုပြန်လည်ဖြုတ်ယူခြင်း၊ဖြုတ်တောက်ခြင်းများကိုအငှားချထားသူထံခွင့်ပြုချက်ရယူ၍ ဆောင်ရွက်ခွင့်ရှိသည်။

၉။ မူလစာချုပ် အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၁)တွင် အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်လိုက်သည်–

၁၁(လ)။ အငှားချထား သည့် စက်ရုံတွင် တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုများ၊ စက်ပစ္စည်းအသစ်ဖြည့်စွက်တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းရုံးချုပ်သို့ ခွင့်ပြုချက်တောင်းခံ၍ ဆောင်ရွက်သွားနိုင်ပြီး စက်ရုံပြန်လည်လွှဲပြောင်းပေးချိန်တွင် တပ်ဆင်ထားသော စက်ပစ္စည်းများနှင့် တိုးချဲ့အဆောက်အဦများအား နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

၁၀။ မူလစာချုပ် အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၂)(က) အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည် -

၁၂(က)။ အငှားချထားခြင်းခံရသူသို့ အငှားချထားသည့်ကြွေရည်စိမ်ပစ္စည်းစက်ရုံ(မရမ်းကုန်း)ကို လွှဲပြောင်းပေးပြီး ကုန်ပစ္စည်းများကို ထုတ်လုပ်ခွင့်ပေးရမည်။ လုပ်ငန်းများ တိုးချဲ့ခြင်းနှင့် စက်ပစ္စည်းများ ထပ်မံတိုးချဲ့တပ်ဆင်ခြင်း၊ ကုန်ပစ္စည်းအမယ်သစ်များ လုပ်ငန်းသစ်များ ဆောင်ရွက်လိုကြောင်း အငှားချထားခံရသူမှ တင်ပြလျှင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။ သာမန်ပြုပြင်မှုမှလွဲ၍ အကြီးစားပြင်ဆင်ဆောင်ရွက်မှုကို စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီသို့ တင်ပြအတည်ပြုချက် ရယူရမည်။

၁၁။ မူလစာချုပ် ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၆) အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည် -

၁၆။ အငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါ ငှားရမ်းခြင်းစာချုပ်ကုန်ဆုံးသည့်အခါ ဖြစ်စေ၊ ငှားရမ်းခြင်း ရပ်စဲသည့်အခါဖြစ်စေ ယင်းသို့ ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့မှ (၃၀)ရက်အတွင်း အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် အငှားချထားစဉ်ကပါရှိသော စက်ပစ္စည်းကိရိယာများကို အငှားချထားသူသို့ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

၁၂။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည်မူလစာချုပ်၏အစိတ်အပိုင်းတစ်ရပ်အဖြစ်မှတ်ယူရမည်။

၁၃။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် ၂၀၀၄ခုနှစ်ဇန်နဝါရီလ(၁)ရက်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။(မြန်မာနိုင်ငံတံဆိပ်ခေါင်းအက်ဥပဒေ နောက်ဆက်တွဲဇယား(၁)အမှတ်စဉ် (၃၅)ပါ အချက်များအရ အငှားချထားခြင်းခံရသူမှ အကျိုးသက်ရောက်သည့်နေ့မှစ၍ အခွန် ထမ်းဆောင်ရမည်ဖြစ်သည်။)

၁၄။ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၁၅။ ဤ ပြင်ဆင်ချက် သဘောတူစာချုပ်တွင် ပါရှိသော နောက်ဆက်တွဲသည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၁၆။ ဤသက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်အား ၂၀၁၄ခုနှစ်၊ ဇန်နဝါရီလ(၃၀)ရက်နေ့တွင် "အငှားချထားသူ" နှင့် " အငှားချထားခြင်းခံရသူ" တို့ အောက်ပါ အသိသက်သေ များရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

<u>အငှားချထားသူ(ကိုယ်စား)</u>

ဦးရည်မွန်

ဦးဆောင်ညွှန်ကြားရေးမှူး

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

<u>အငှားချထားခြင်းခံရသူ(ကိုယ်စား)</u>

ဦးခွန်နောင်မြင့်ဝေ

အုပ်ချုပ်မှုဒါရိုက်တာ၊

ဝမင်းကုမ္ပဏီလီမိတက်

အသိသက်သေ

ဒေါက်တာစိုးနိုင်

ညွှန်ကြားရေးမှူး

ပစ္စည်းစီမံရေးဌာန

ဦးမြင့်ဝေ

၁၂/အစန(နိုင်)၁၂၁၂၂၁

အမှတ်(၆၆၉/စီ)၊

မြကန်သာ(၂)လမ်း၊

အမှတ်(၂)ရပ်ကွက်၊ကမာရွတ်မြို့နယ်

ရန်ကုန်မြို့။

ကန့်သတ်

၄

ဦးလွင်မိုး
၁၂/မအရ(နိုင်)၀၇၉၆၅၅
အမှတ်(၆၃)အောင်မင်းခေါင်(၁)လမ်း
(၁၀)ရပ်ကွက်၊ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

ဦးနောင်ခွန်မြင့်ဝေ
၁၂/မရက(နိုင်)၁၂၇၅၈၅
အမှတ်(၆၆၉/စီ)၊မြကန်သာ(၂)လမ်း၊
(၂)ရပ်ကွက်၊ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

...သန်းထွန်း
...ညွှန်ကြားရေးမှူး
...ဆိုင်ရာလုပ်မှုစီမံရေးဌာန

ဒေါ်ခင်မြင့်သီ
ညွှန်ကြားရေးမှူး
ဘဏ္ဍာရေးဌာန

ဒေါ်တင်စန်း
စက်ရုံမှူး
ကြွေရည်စိမ်ပစ္စည်းစက်ရုံ
(မရမ်းကုန်း)

ကန့်သတ်

